စာအမှတ်၊ ရက-၁/မ-၁၇၂/၉၇ (၁၀၂၃)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ဒီဇင်ဘာလ ၂၆ ရက်။

မြန်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၅။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၈။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၉။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၀။ အလုပ်သမား ဝန်ကြီးဌာန။
၁၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထွေထွေ နှင့် ပြုပြင် ထိန်းသိမ်းရေး စက်မှုလုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၃။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ဟိန်း မြန်မာ ကုမ္ပဏီ လီမိတက် (Hein Myanmar Co., Ltd.)။

အ မိန့် အ ရ -

(မောင်မောင်ရှိ)
တွဲဖက်အတွင်းရေးမှူး

စာအမှတ်၊ ရက-၁/မ-၁၇၂/၉၇ (၁၂၃)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ဒီဇင်ဘာလ၂၆ ရက်။

မြန်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၅။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၆။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၇။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၈။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၉။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၀။ အလုပ်သမား ဝန်ကြီးဌာန။
၁၁။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၂။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အထွေထွေ နှင့် ပြုပြင် ထိန်းသိမ်းရေး စက်မှုလုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၃။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ဟိန်း မြန်မာ ကုမ္ပဏီ လီမိတက် (Hein Myanmar Co., Ltd.)။

အမိန့်အရ -

(မောင်မောင်ရှိ)
တွဲဖက်အတွင်းရေးမှူး

၄၇၇၂
၂၅.၁၂.၉၇

အထွေထွေအရပ်ရပ် – ၁၆

(ရုံးတွင်း စာအကျဉ်းချုပ်သို့တည့် မဟုတ်စာကြမ်း ရေးရန်အတွက်)

အကြောင်းအရာ။ ။ <u>ဟိန်းမြန်မာကုမ္ပဏီလီမိတက် ( Hein Myanmar Co., Ltd. ) မှထီးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ</u>။

၁။ မြန်မာကုမ္ပဏီလီမိတက် ( Hein Myanmar Co., Ltd. ) သည် ကမကထပြုသူဦးသန်းလွင်အမည်ဖြင့်ထီးစက်ရုံတည်ဆောက်ရန်နှင့်ဒါရိုက်တာ ဒေါ်နန်းခင်မွေးအမည်ဖြင့်စက်မှုလုပ်ငန်းနှင့်အခြားလုပ်ငန်းလုပ်ကိုင်ရန် အတွက်ရန်ကုန်တိုင်း၊ ထန်းတပင်မြို့နယ် အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေး ကောင်စီမှချပေးထားသော ရန်ကုန်မြောက်ပိုင်းခရိုင်ထန်းတပင်မြို့နယ်၊ ကံကြီးကုန်းကွင်း၊ အမှတ်( ၄ ) ရပ်ကွက်၊ အကွက်အမှတ်( ၁ ) ဦးပိုင်အမှတ် ( စက်မှု၁၉၊ ၂၀၊ ၂၁၊ ၅၀၊ ၅၁၊ ၅၂ ) တွင်တည်ရှိသော မြေ( ၃.၇၂ ) ဧက ( ၁၅၀၅၄.၃၂ စတုရန်းမီတာ ) တွင်ထီးထုတ်လုပ်မည့်စက်ရုံတည်ဆောက်၍ထီး များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုချက်အား ( ၅-၁၂-၉၇ ) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ( ၂၀/၉၇ ) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှမူအားဖြင့်သဘောတူညီခဲ့ပြီး အစိုးရအဖွဲ့သို့ဆက် လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ( ၂၃-၁၂-၉၇ ) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏( ၆/၉၇ ) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ ပါသည်။

အထွေထွေအရပ်ရပ် - ၁၆
(ရုံးသွင်းစာအကျဉ်းချုပ်သို့တည်းမဟုတ်စာကြမ်းရေးရန်အတွက်)



၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၅) ပုဒ်မ ၁၀ နှင့် ယင်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၄) အပိုဒ် ၁၂ တို့နှင့်အညီ ဟိန်းမြန်မာကုမ္ပဏီလီမိတက် ( Hein Myanmar Co., Ltd. ) သို့ထုတ်ပေးမည့် ခွင့်ပြုမိန့်တွင် လက်မှတ်ရေးထိုးနိုင်ပါရန်နှင့် ယင်းခွင့်ပြုမိန့်ထုတ်ပေးမည့် အမှာစာ ( မူကြမ်း ) ကိုသဘောတူအတည်ပြုပေးနိုင်ပါရန် ပြုစုတင်ပြအမိန့်နာခံအပ်ပါသည်။

၂၆-၅-၉၇။

အတွင်းရေးမှူး (ဝန်ကြီး)

Permit တွင်လက်မှတ်ရေးထိုးပေးနိုင်ပါရန် လေးစားစွာ တင်ပြပါသည်။

ဥက္ကဋ္ဌ (ဒုတိယဝန်ကြီးချုပ်)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊ ရက-၁/မ-၈၂၁/၉၇(၁၆၅၅)။
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာလ ၁၈ ရက်။

## ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ ဟိန်းမြန်မာကုမ္ပဏီလီမိတက်မှထီး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သောဟိန်းမြန်မာကုမ္ပဏီလီမိတက်( Hein Myanmar Co., Ltd. )မှထီး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်း အဆိုပြု ချက်ကို( ၅-၁၂-၉၇) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်၏( ၂၀/၉၇)ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာလုပ်ငန်းဆောင် ရွက်ရန်မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန်ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက် နှင့်အတူစက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်းများ ဝယ်ယူရန်အတွက် ရွှေဆိုင်း ငွေပေးချေ ခြင်းသဘောတူစာချုပ်( မူကြမ်း )ကို နောက်ဆက်တွဲ(၁)အဖြစ်ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်းပမာဏမှာအမေရိကန်ဒေါ်လာ (၁.၀)သန်း အပါအဝင်ကျပ်(၄၈.၀)သန်းဖြစ်ပါသည်။ ယင်းတွင်ငွေသားကျပ် (၁၆.၀)သန်း၊ အဆောက်အဦတန်ဖိုးကျပ်(၂၀.၀)သန်း၊ မြေတန်ဖိုးကျပ်(၆.၀) သန်း၊ စက်ပစ္စည်းကိရိယာတန်ဖိုးကျပ်(၃.၀)သန်း၊[အမေရိကန်ဒေါ်လာ(၀.၅) သန်း]၊ ကုန်ကြမ်းပစ္စည်းတန်ဖိုးကျပ်(၃.၀)သန်း[အမေရိကန်ဒေါ်လာ(၀.၅)သန်း] ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းများကို -

တရုတ်ပြည်သူ့သမ္မတနိုင်ငံ၊ ဟောင်ကောင်ရှိ Wellink Transportation Ltd မှ ရွှေဆိုင်းငွေပေးချေခြင်း စနစ်အရဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၄) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်ကုမ္ပဏီ၏အုပ်ချုပ်မှုဒါရိုက်တာ ဦးသန်းလွင်နှင့်ဒါရိုက်တာဒေါ်နန်းခင်မွေး တို့အမည်ဖြင့် စက်မှုလုပ်ငန်းနှင့် အခြားလုပ်ငန်းလုပ်ကိုင်ရန်အတွက် ရန်ကုန်တိုင်း၊ တန်းတပင်မြို့နယ် အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှချပေးထားသော ရန်ကုန်တိုင်း၊ ထန်းတပင်မြို့နယ်၊ အမှတ် (၄) ရပ်ကွက်၊ ကံကြီးကုန်းတွင်း၊ အကွက်အမှတ် (၁)၊ ဦးပိုင်အမှတ် (စက်မှု၁၉၊ ၂၀၊ ၂၁၊ ၅၀၊ ၅၁၊ ၅၂) ရှိ မြေ (၃.၇၂) ဧက (၁၅၀၁၄.၃၂ စတုရန်းမီတာ) ပေါ်တွင်စက်ရုံတည်ဆောက်ပြီး ထီးထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်းမှထုတ်လုပ်မည့်ထီးများ၏ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ ထုတ်လုပ်မှု၏ (၇၅) ရာခိုင်နှုန်းကို ပြည်တွင်း၌ရောင်းချ၍ (၂၅) ရာခိုင်နှုန်းကို ပြည်ပသို့တင်ပို့ရောင်းချမည်ဖြစ်ပါသည်။

| စဉ် | အကြောင်းအရာ | ပြည်တွင်း (၇၅%) | | ပြည်ပ (၂၅%) | |
|---|---|---|---|---|---|
| | | ထုတ်လုပ်မှု (ခုရေထောင်ပေါင်း | ရောင်းဈေးနှုန်း (KS/PCS) | ထုတ်လုပ်မှု (ခုရေထောင်ပေါင်း | ရောင်းဈေးနှုန်း (US$/PCS) |
| ၁ | Nylon/Satin Umbrella | ၉၀၀ | ၄၅၀ | ၃၀၀ | ၃.၂ |
| ၂ | P.B/Jump Umbrella | ၆၀၀ | ၂၀၀ | ၂၀၀ | ၁.၆ |
| ၃ | Beach Umbrella | ၃၀၀ | ၁၂၀၀ | ၁၀၀ | ၁၀.၅ |

၅။ ဤလုပ်ငန်းအတွက်လိုအပ်သောကုန်ကြမ်းပစ္စည်းများတွင် - Polyethylene အနည်းငယ်ကိုသာပြည်တွင်းမှဝယ်ယူမည်ဖြစ်ပြီး ကျန်ကုန်ကြမ်းအား

လုံးကို ပြည်ပမှဝယ်ယူတင်သွင်းမည်ဖြစ်ပါသည်။ ထီးများကို ကုမ္ပဏီ၏ ကိုယ်ပိုင်အမှတ်တံဆိပ်ဖြစ်သော Noriko နှင့် Eagle အမှတ်တံဆိပ်များဖြင့်ထုတ်လုပ်မည်ဖြစ်ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၂၉၅.၀၀ | ၄၁.၉၄ | ၃၃၆.၉၄ |
| (ခ) အသုံးစရိတ် | ၂၃၃.၄၀ | ၃၈.၅၃ | ၂၇၁.၉၃ |
| (ဂ) အသားတင်အမြတ် | ၆၁.၆၀ | ၃.၄၁ | ၆၅.၀၁ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင်ရရှိမည့်အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) ဝင်ငွေခွန် (ကျပ်သန်း) ၂၆.၄၀
(အမေရိကန်ဒေါ်လာသန်း) ၀.၁၀

(ခ) ကုန်သွယ်လုပ်ငန်းခွန် (ကျပ်သန်း) ၂၉.၅၀

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၃၅၀) ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်အမှတ်(၁)စက်မှုဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းပြန်ကြားလာပါသည်။

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး ၊ နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိကြောင်း ၊ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်း ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်လိုအပ်သော အစီအမံများ ပြုလုပ်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ- ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂အရ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃အရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့်သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှသို့နှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၂။ __ဆုံးဖြတ်ရန်အချက်__

(က) ဟိန်းမြန်မာကုမ္ပဏီလီမိတက်မှ ထီးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ရန်သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၃။ မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်၏ ထောက်ခံချက်။

အစိုး ရအဖွဲ့၏ဆုံး ဖြတ်ချက်ကိုနာခံအပ်ပါသည်။

[ ဗိုလ်မှူး ချစ်မောင်မောင် ]

ဝန်ကြီး

နိုင်ငံတော် အေးချမ်းသာယာရေး နှင့်ဖွံ့ဖြိုးတိုးတက်ရေး

ကောင်စီဥက္ကဋ္ဌ ရုံး

နှင့်

အတွင်းရေးမှူး

မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှု ကော်မရှင် ။

ပြည်ထောင်စုမြန်မာနိုင်ငံ တော်အစိုး ရအဖွဲ့။



* ဿ၁၀/၁၂/၉၇။

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၇ | **ဟိန်းမြန်မာကုမ္ပဏီလီမိတက် ( Hein Myanmar Co., Ltd. ) မှ ထီးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ ။** | |
| | ကော်မရှင်၏ (၂-၁၂-၉၇) ရက်စွဲပါစာအမှတ်၊ ရက-၆(ခ)/ ၀၂၀/၉၇(၁၄၇၀)။ | |
| | ညွှန်ကြားရေးမှူး ဦးသင်းမောင်က အမှာစာကိုရှင်းလင်းတင်ပြပြီး အဆိုပြုတင်ပြသည့်ကိစ္စအတွက် အမှတ်(၁) စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်မရရှိသေးပါကြောင်း တင်ပြပါသည်။ | |
| | ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က အမှတ်(၁) စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ရရှိပါက အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ပြောကြားပါသည်။ | |
| | **ဆုံးဖြတ်ချက်။** | |
| | (၁) ဟိန်းမြန်မာကုမ္ပဏီလီမိတက် ( Hein Myanmar Co., Ltd. ) မှ ထီးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စအား ကော်မရှင်မှ မူအားဖြင့် သဘောတူ၍ အမှတ်(၁) စက်မှုဝန်ကြီးဌာန၏ မှတ်ချက်ရရှိသည့်အခါအစိုး ရအဖွဲ့သို့ဆက်လက်တင်ပြရန်၊ | အတွင်းရေးမှူး |
| | (၂) လုပ်ငန်းနှင့်သက်ဆိုင်သည့်အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုခံစားခွင့်ပြုရန်၊ | |

(5.12.97) 20/97 MIC အစည်းအဝေး



ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ၇၈-ဖ(ခ)/၀၂၁/၉၇(၁၄၇၀)
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ ဒီဇင်ဘာလ ၂ ရက်။

အမှာစာ

အကြောင်းအရာ။ ။ ဟိန်းမြန်မာကုမ္ပဏီလီမိတက်မှ ထီးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဟိန်းမြန်မာကုမ္ပဏီလီမိတက် ( Hein Myanmar Co., Ltd. ) မှ ထီးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန် အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို (၂၀-၁၁-၉၇) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀/၉၇) ကြိမ်မြောက် ကြိုတင်ညှိနှိုင်းအစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူညီပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်းဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ ဆက်လက်တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ စက်ပစ္စည်းနှင့် ကုန်ကြမ်းပစ္စည်းများ ဝယ်ယူရန် ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ် သဘောတူစာချုပ် ( မူကြမ်း ) နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများကို <u>နောက်ဆက်တွဲ (၁)</u> တွင်တင်ပြထားပါသည်။

၂။ ဤလုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၀) သန်း အပါအဝင် ကျပ် (၄၀.၀) သန်း ဖြစ်ပါသည်။ ယင်းတွင် ငွေသားကျပ် (၁၆.၀) သန်း၊ အဆောက်အဦတန်ဖိုး ကျပ် (၂၀.၀) သန်း၊ မြေတန်ဖိုး ကျပ် (၆.၀) သန်း၊ စက်ပစ္စည်းကိရိယာတန်ဖိုး ကျပ် (၃.၀) သန်း [အမေရိကန်ဒေါ်လာ (၀.၅) သန်း]၊ ကုန်ကြမ်းပစ္စည်းတန်ဖိုး ကျပ် (၃.၀) သန်း [အမေရိကန်ဒေါ်လာ (၁.၅) သန်း] ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းနှင့်

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေနှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၂၉၅.၀၀ | ၄၁.၉၄ | ၃၃၆.၉၄ |
| (ခ) အသုံးစရိတ် | ၂၃၃.၄၀ | ၃၈.၅၃ | ၂၇၁.၉၃ |
| (ဂ) အသားတင်အမြတ် | ၆၁.၆၀ | ၃.၄၁ | ၆၅.၀၁ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | (ကျပ်သန်း) | ၂၆.၄၀ |
| | (အမေရိကန်ဒေါ်လာသန်း) | ၀.၁၀ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | (ကျပ်သန်း) | ၂၉.၅၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်ပြည်တွင်း ဝန်ထမ်း (၃၅) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်အမှတ် (၁) စက်မှုဝန်ကြီးဌာနသို့ သဘောထား မှတ်ချက် တောင်းခံထားသည်ဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်း၏ ငွေရေးကြေးရေးဆိုင်ရာအထောက်အထား အဖြစ် ဟန်းမြန်မာကုမ္ပဏီလီမိတက်၏ အာရှဓနဘဏ်လီမိတက်ရှိ ဘဏ်စာရင်းကို တင်ပြထားပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မော်တော်ယာဉ်တင်သွင်းခွင့်နှင့်ပတ်သက်၍ တည်ဆောက်ရေးကာလအတွင်း Saloon (တစ်) စီး နှင့် Truck (တစ်)စီး တို့ကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်မှုကာလအတွင်း Pick-up (တစ်) စီး နှင့် Bus (တစ်) စီး တို့ကိုအခွန်အကောက် ၅၀ %သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့်ပြုရန်၊ ကော်မရှင်၏ (၂၈/၉၇) ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးမှ ဆုံးဖြတ်ခဲ့ပါသည်။

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေ နှင့်အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၂၉၅.၀၀ | ၄၁.၉၄ | ၃၃၆.၉၄ |
| (ခ) အသုံးစရိတ် | ၂၃၃.၄၀ | ၃၈.၅၃ | ၂၇၁.၉၃ |
| (ဂ) အသားတင်အမြတ် | ၆၁.၆၀ | ၃.၄၁ | ၆၅.၀၁ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) ဝင်ငွေခွန် | (ကျပ်သန်း) | ၂၆.၄၀ |
| | (အမေရိကန်ဒေါ်လာသန်း) | ၀.၁၀ |
| (ခ) ကုန်သွယ်လုပ်ငန်းခွန် | (ကျပ်သန်း) | ၂၉.၅၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း (၃၁) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် အမှတ်(၁) စက်မှုဝန်ကြီးဌာနသို့ သဘောထား မှတ်ချက် တောင်းခံထားဆဲဖြစ်ပါသည်။

၁၀။ ဤလုပ်ငန်း၏ ငွေရေးကြေးရေး ဆိုင်ရာ အထောက်အထား အဖြစ် ဟန်းမြန်မာကုမ္ပဏီလီမိတက်၏ အာရှခနာဘဏ်လီမိတက် ရှိ ဘဏ်စာရင်းကို တင်ပြထားပါသည်။

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မော်တော်ယာဉ်တင်သွင်းခွင့်နှင့် ပတ်သက်၍ တည်ဆောက်ရေးကာလအတွင်း Saloon (တစ်) စီး နှင့် Truck (တစ်)စီး တို့ကို အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်မှုကာလအတွင်း Pick-up (တစ်) စီး နှင့် Bus (တစ်) စီး တို့ကို အခွန်အကောက် ၅၀ % သက်သာခွင့်ဖြင့်လည်းကောင်း တင်သွင်းခွင့်ပြုရန်၊ ကော်မရှင်၏ (၂၀/၉၇) ကြိမ်မြောက် ကြိုတင်ညှိနှိုင်းအစည်းအဝေး မှ ဆုံးဖြတ်ခဲ့ပါသည်။

၁၂။ ၎င်းလုပ်ငန်းကို ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းများကို လိုက်နာမည်ဖြစ်ကြောင်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် လိုအပ်သော အစီအမံများ ပြုလုပ်ထားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို တောင်းခံထားရာ ယင်းအပေါ် သုံးသပ်တင်ပြချက်ကို ပူးတွဲတင်ပြထားပါသည်။

၁၄။ ဆုံးဖြတ်ရန်အချက်။

(က) ၎င်း မြန်မာကုမ္ပဏီလီမိတက်မှ ထီးထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

(ခ) သဘောတူပါက အထက်အပိုဒ် (၁၃) ပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ - မတူ။

အတွင်းရေးမှူး (ကိုယ်စား)

(မောင်မောင်ဝို၊ တွဲဖက်အတွင်းရေးမှူး)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။



* အေး * ၁-၁၂-၉၇

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလ အတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှပြည်ပတင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့်ရရှိသည့်အမြတ်ငွေအပေါ် ၅၀ ရာခိုင်နှုန်း ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီး နောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့်ပြည်တွင်းပြည်ပ ဝင်ငွေတိုးတက်မှုရှိပါကသတ်မှတ်ချက်နှင့်အညီဝင်ငွေခွန်သက်သာခွင့်ကိုလုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါစဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဃ) အရ သွင်းကုန်အစားထိုးလုပ်ငန်းအဖြစ်အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ်သင့်လျော်သောကာလအထိဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကိုအကျုံးဝင်ခြင်းမရှိဟုသုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ် တွင်ဝင်ငွေခွန်ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်ကိုအမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး [illegible] ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့်မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှနုတ်ပယ်ခွင့်နှင့်ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလ အတွင်း တင်သွင်းလာသည့်စက်ပစ္စည်းများ အပေါ် အကောက် ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့် ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ဈ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွင်းတင်သွင်းသည့်လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့်ပစ္စည်းများ ပြည်ပ သို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ် ခွင့်ကိုခွင့်ပြုသင့်ပါသည်။



* ဘေး * ● - ၆ - ၉၇

R.2900 9.12.97

၂၄၆၅
၉.၁၂.၉၇

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၁) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၅၀/၁၈(၁)(၄၇၁၇)/၉၇(၃၂၀၉)

ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာ လ ၁၂ ရက်။

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၇ ခုနှစ်နိုဝင်ဘာလ ၇ ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၁၇၂/၉၇(၁၂၉၅)

ဟိန်းမြန်မာကုမ္ပဏီလီမိတက် (Hein Myanmar Co; Ltd.) မှ ရန်ကုန်တိုင်း၊ ထန်းတပင်မြို့နယ်အမှတ်(၄)ရပ်ကွက်၊ ကံကြီးကုန်းကွင်း၊ အကွက်အမှတ်(၁)တွင်ထီး ( Umbrella ) ထုတ်လုပ်မည့်စက်ရုံတည်ဆောက်ပြီး ထီးထုတ်လုပ်ရောင်းချမည့်ကိစ္စနှင့်ပတ်သက်၍ ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရက်စွဲ..................
ဝင်စာတင်ပြခြင်း
ဝန်ကြီး..................
ညွှန်ချုပ်..................
ဒု-ညွှန်ချုပ်..................

ဝန်ကြီး ( )
(မြင့်ဆွေ၊ ဂုဏ်ထူးအဖွဲ့မှူး)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မိတ္တူကို -

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၁) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၅၀/၁၈(၁)(၄၇၁၈)/၉၇(၃၂၈၉)

ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉၉၇ ခု၊ နိုဝင်ဘာ လ ၁၄ ရက်။

အကြောင်းအရာ။ **သဘောတူးမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၇ ခုနှစ်နိုဝင်ဘာလ ၇ ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၁၇၂/၉၇(၁၂၉၅)

ဟိန်းမြန်မာကုမ္ပဏီလီမိတက် (Hein Myanmar Co; Ltd.) မှ ရန်ကုန်တိုင်း၊ ထန်းတပင်မြို့နယ်အမှတ်(၄)ရပ်ကွက်၊ ကံကြီးကုန်းကွင်း၊ အကွက်အမှတ်(၁)တွင်ထီး ( Umbrella ) ထုတ်လုပ်မည့်စက်ရုံတည်ဆောက်ပြီး၊ ထီးထုတ်လုပ်ရောင်းချမည့်ကိစ္စနှင့်ပတ်သက်၍ ဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

| |
|---|
| ရက်စွဲ................ |
| **ဝင်စာတင်ပြခြင်း** |
| ဝန်ကြီး................ |
| ညွှန်ချုပ်................ |
| ဒု-ညွှန်ချုပ်................ |

ဝန်ကြီး ( )
(မြင့်ဆွေ၊ ဂုဏ်ထူးအဖွဲ့မှူး)

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူကို -

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့အထွေထွေနှင့်ပြုပြင်ထိန်းသိမ်းရေးစက်မှုလုပ်ငန်း

အော်င

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
၆၅၃/၆၆၇၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့

Telex 21368 INVEST BM
Fax : 095 - 01 - 82101

တယ်လီဖုန်း: - ၇၂၀၀၉
- ၇၂၂၁၉
- ၇၂၈၇၀

စာအမှတ်၊ ၇၈ - ၁/မ - ၁၇၂/၉၇ (၁၂၉၅)။
ရက်စွဲ၊ ၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ ၇ ရက်။

အကြောင်းအရာ။ ။ <u>သဘောထား မှတ်ချက် တောင်းခံခြင်း ကိစ္စ</u>။

ရည်ညွှန်းချက်။ ။ ဟိန်းမြန်မာကုမ္ပဏီလီမိတက်၏ (၃-၁၁-၉၇) ရက်စွဲပါစာ။

၁။ ဟိန်းမြန်မာကုမ္ပဏီလီမိတက် (Hein Myanmar Co., Ltd) သည် ရန်ကုန်တိုင်း ထန်းတပင်မြို့နယ်၊ အမှတ် (၄) ရပ်ကွက်၊ ဂုံကြီးကုန်းကွင်း၊ အကွက်အမှတ် (၁)၊ ဦးပိုင်အမှတ် (စက်မှု-၁၉၊ ၂၀၊ ၂၁၊ ၅၀၊ ၅၁၊ ၅၂) တွင်တည်ရှိသော ၃.၇၂ ဧကအကျယ်အဝန်းရှိသည့် မြေနေရာတွင် ထီး (Umbrella ) ထုတ်လုပ်မည့်စက်ရုံတည်ဆောက်ပြီး၊ ထီး(Umbrella) ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်အထက် ရည်ညွှန်းပါစာဖြင့် ကော်မရှင်သို့တင်ပြ လျှောက်ထားလာပါသည်။ (ပူးတွဲ)

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း (၃)၊ အပိုဒ် ၁၁ ပါပြဋ္ဌာန်းချက်နှင့်အညီအဆိုပြုချက်ကိုစိစစ်ရာတွင်သက်ဆိုင်ရာအဖွဲ့အစည်းများ၏သဘောထားများကို တောင်းခံရယူရန်လိုအပ်ပါသဖြင့်အဆိုပြုချက်ပါ လုပ်ငန်းနှင့်စပ်လျဉ်း၍အမှတ် (၁) စက်မှုဝန်ကြီးဌာန၏သဘောထားမှတ်ချက်ကိုပြန်ကြားပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

တွဲဖက်အတွင်းရေးမှူး (ကိုယ်စား)
(စိုးဝင်း၊ ညွှန်ကြားရေးမှူး)

<u>အမှတ် (၁) စက်မှုဝန်ကြီးဌာန</u>။

ပူးတွဲ - (၁) အဆိုပြုချက်
(၂) ဘဏ္ဍာရေး အချက်အလက်နှင့်ပတ်သက်၍ တွက်ချက်မှုဇယားများ
(၃) မြေနှင့်ပတ်သက်၍အထောက်အထားများ
(၄) Deferred Payment Loan Agreement (Draft)
(၅) ငွေရေးကြေးရေးအထောက်အထား

မ၁*၆/၁၁/၉၇။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၁၀ ကျပ် ငွေတစ်ဆယ်ကျပ် K-10

**ဖဲထီးအမျိုးမျိုးလုပ်ငန်းကုန်အမှတ်တံဆိပ် အမည်အမှတ်အသားကို**
**တစ်ဦးတည်း မူပိုင်အဖြစ် မှတ်ပုံတင်သွင်းခြင်းစာချုပ်**

၁၉၉၇ ခုနှစ် အောက်တိုဘာလ (၂၈)ရက်နေ့တွင်၊ ရန်ကုန်မြို့ စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံး၌၊ ဗိုလ်မှူးသန်းလွင်(ငြိမ်း) အမျိုးသားမှတ်ပုံတင်အမှတ် TVY ၀၂၅၁၈၇၊ (မန်နေဂျင်းဒါရိုက်တာ)၊ ဟိန်းမြန်မာကုမ္ပဏီလီမိတက်၊ အမှတ် ၅၅၊ မြေညီထပ် ၂လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းတွင် နေထိုင်သူက၊ အောက်တွင် ဖေါ်ပြထားသည့် ကုန်တံဆိပ် အမည် အမှတ်အသားကို၊ မိမိတစ်ဦးတည်း မူပိုင်အဖြစ် ပြုလုပ်သုံးစွဲနိုင်ရေးအတွက် မှတ်ပုံတင်သွင်းအပ်ပါသည်။

NORIKO
JAPAN

အထက်ဖေါ်ပြထားသော ကုန်တံဆိပ်အမည်အမှတ်အသားမှာ၊ ဟိန်းမြန်မာ ကုမ္ပဏီလီမိတက်မှ ထုတ်လုပ်မည့် ဖဲထီးအမျိုးမျိုး၏ အမည်တံဆိပ် အမှတ်အသား ဖြစ်ပါသည်။ အဆိုပါတံဆိပ်အမည်အမှတ်အသားကို ယခုနေ့ထိတိုင် မည်သူမျှ သုံးစွဲနေသည်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၁၀ ကျပ် ငွေတစ်ဆယ်ကျပ် K 10

ကို မတွေ့ရသေးပါ။ မိမိ၏ ကိုယ်ပိုင်ဉာဏ်ဖြင့် တီထွင်အသုံးပြုထားသော တံဆိပ်အမည် အမှတ်အသားဖြစ်ပါသည်။

အဆိုပါ ကုန်တံဆိပ်၏ ပုံသဏ္ဌာန်မှာ၊ လေးဒေါင့်ပုံသဏ္ဌာန်ရှိ ဘောင်အတွင်း၌၊ ထီးတစ်ချောင်းပုံ အမှတ်အသားပါရှိ၍ ယင်းလေးဒေါင့်ဘောင်၏ အောက်ဘက်ပြင်ပ၌ NORIKO JAPAN ဟူသော စာတမ်းကို၊ အင်္ဂလိပ်ဘာသာဖြင့် ရေးသားထားပါသည်။

ဖော်ပြပါ ကုန်တံဆိပ်အမှတ်အသားဖြင့် ဖဲထီးများကို၊ ယောက်ျားဆောင်း၊ မိန်းမဆောင်း၊ ကလေးဆောင်း၊ ရိုးရိုးထီး၊ ခေါက်ထီး အမျိုးမျိုးနှင့်၊ ထီးနှင့် သက်ဆိုင်သော အပိုပစ္စည်းများကို ထုတ်လုပ်ရာတွင်၊ ယင်းပစ္စည်းများပေါ်၌၊ ဖိနှိပ်၍၊ ကပ်နှိပ်၍၊ ရိုက်နှိပ်၍၊ ရန်ကုန်မြို့နှင့်တကွ၊ ပြည်ထောင်စုမြန်မာနိုင်ငံ တဝန်းလုံးတွင် ဖြန့်ချီရောင်းချသွားမည် ဖြစ်ပါသည်။

ထို့ပြင် ယင်းလုပ်ငန်းနှင့် ဆက်နွယ်ပတ်သက်သည့်၊ စာရွက်စာတမ်းကြော်ငြာ၊ လက်ကမ်းကြော်ငြာ၊ ရုပ်ရှင်ဆလိုက်ကြော်ငြာ၊ တီဗွီကြော်ငြာ၊ ဘလောက်၊ ဒီဇိုင်း၊ တံဆိပ်တုံး အစရှိသည်တို့အပေါ်တွင်လည်း၊ ဖော်ပြပါ NORIKO အမှတ်တံဆိပ်ကို ရိုက်နှိပ်၍၊ မြန်မာပြည်အနှံ့အပြား ဖြန့်ချီ သုံးစွဲသွားမည် ဖြစ်ပါသည်။

သို့ဖြစ်ပါ၍၊ ဖော်ပြပါ ကုန်တံဆိပ်အမည်အမှတ်အသားမှာ၊ မိမိတစ်ဦးတည်း မူပိုင်အဖြစ် မှတ်ပုံတင်သွင်းပြီး၊ စတင်လုပ်ကိုင်သည့်နေ့မှစ၍၊ နောက်နောင်တွင်၊ ယင်းတံဆိပ်အမည်အမှတ်အသားကို မိမိမှ၍ အတုအယောင်ပြုလုပ်ခြင်း၊ ဆင်တူရိုးမှား ပြုလုပ်ခြင်း၊ သွယ်ဝိုက်၍ အတုအပပြုလုပ်ခြင်း၊ စသည်တို့ကို လုပ်ကိုင်ဆောင်ရွက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း
REVENUE STAMP

၅ ကျပ် ငွေ ငါး ကျပ် K-5

အသုံးပြုသူများအားတွေ့ရှိပါက၊ မိမိ၏လုပ်ငန်း အကျိုးစီးပွားကို ထိခိုက်နစ်နာမှုများအတွက် လျော်ကြေးငွေများတောင်းဆိုနိုင်ရန်နှင့် ယင်းအတုအပဆင်တူရိုးမှား ပြုလုပ်ထားသည့် တံဆိပ်များကိုပယ်ဖျက်နိုင်ရေးအတွက်၊ ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ မည်သည့်တရားရုံးတွင်မဆို၊ တရားမကြောင်းဖြင့်ဖြစ်စေ၊ ပြစ်မှုကြောင်းဖြင့်ဖြစ်စေ၊ တရားဥပဒေဘောင်အတွင်းမှ အရေးယူ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ အောက်ပါ အသိသက်သေတို့ ရှေ့မှောက်တွင် မြွက်ဟကြေငြာလက်မှတ်ရေးထိုး၍ မှတ်ပုံတင်သွင်းအပ်ပါသည်။

ဗိုလ်မှူးသန်းလွင် (ငြိမ်း)
မန်နေဂျင်းဒါရိုက်တာ
ဟိန်းမြန်မာ ကုမ္ပဏီလီမိတက်

အသိသက်သေများ

၁။
အမည် ........
မှတ်ပုံတင်အမှတ် ........
နေရပ်လိပ်စာ ........

၂။
အမည် ........
မှတ်ပုံတင်အမှတ် ........
နေရပ်လိပ်စာ ........

19.12.97

ပြည်ထောင်စုမြန်မာနိုင်ငံတော်

UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း

REVENUE STAMP

၁၀ ကျပ် ငွေတစ်ဆယ်ကျပ် K 10

## နိုင်လွန်ထီးအမျိုးမျိုးလုပ်ငန်းကုန်အမှတ်တံဆိပ်

## အမည်အမှတ်အသားကို တစ်ဦးတည်းမူပိုင်အဖြစ် မှတ်ပုံတင်သွင်းခြင်းစာချုပ်

၁၉၉၇ ခုနှစ် အောက်တိုဘာလ (၂၈) ရက်နေ့တွင်၊ ရန်ကုန်မြို့ စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံး၌၊ ဗိုလ်မှူးသန်းလွင်(ငြိမ်း) အမျိုးသားမှတ်ပုံတင်အမှတ် ၊ TVY ၀၂၅၁၈၇ မြန်နေဂျင်းဒါရိုက်တာ၊ ဟိန်းမြန်မာ ကုမ္ပဏီလီမိတက်၊ အမှတ် ၅၅၊ မြေညီထပ် ၂လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်းတွင် နေထိုင်သူက၊ အောက်တွင် ဖော်ပြထားသော တံဆိပ်အမည် အမှတ်အသားကို၊ မိမိတစ်ဦးတည်း မူပိုင်အဖြစ်ပြုလုပ် သုံးစွဲရန်အတွက် မှတ်ပုံတင်သွင်းအပ်ပါသည်။

EAGLE

အထက်တွင် ဖော်ပြထားသော ကုန်တံဆိပ်အမည်အမှတ်အသားမှာ၊ ဟိန်းမြန်မာ ကုမ္ပဏီလီမိတက်မှ ထုတ်လုပ်သည့် နိုင်လွန်ထီး အမျိုးမျိုး၏ အမည်တံဆိပ် အမှတ်အသား ဖြစ်ပါသည်။ အဆိုပါ တံဆိပ်အမည်အမှတ်အသားကို၊ ယနေ့ထက်တိုင်၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်
UNION OF MYANMAR
အခွန်တံဆိပ်ခေါင်း
REVENUE STAMP
၁၀ကျပ် ငွေတစ်ဆယ်ကျပ် K 10

မည်သူမျှသုံးစွဲနေသည်ကို မတွေ့ရသေးပါ။ မိမိ၏ ကိုယ်ပိုင်ဉာဏ်ဖြင့် တီထွင်အသုံးပြုထားသော တံဆိပ်အမည်အမှတ်အသား ဖြစ်ပါသည်။

အဆိုပါ ကုန်တံဆိပ်၏ ပုံသဏ္ဍာန်မှာ၊ အပြင်တွင် ထောင့်ရှစ်ထောင့်ပါရှိသည့် စက်ဝန်း၏အတွင်းဘက်တွင်၊ စက်ဝိုင်းအသေးပါရှိ၍၊ စက်ဝိုင်း၏ အတွင်းဘက်တွင် လင်းယုံငှက် ပျံသန်းနေသည့် ပုံပါရှိပါသည်။ ရှစ်ထောင့်စက်ဝန်း၏ အပြင်အောက်ဘက်တွင် EAGLE ဟူသော စာတန်းကို အင်္ဂလိပ်ဘာသာဖြင့် ရေးသားထားပါသည်။

ဖော်ပြပါ ကုန်တံဆိပ်အမှတ်အသားဖြင့် နိုင်လွန်ထီးများကို၊ ယောကျ်ားဆောင်းထီး၊ မိန်းမဆောင်းထီး၊ ကလေးဆောင်းထီး၊ ဘုန်းတော်ကြီးဆောင်းထီး၊ သီလရှင်ဆောင်းထီး၊ ကမ်းခြေသုံးထီးများ၊ ဂေါ့ထီးများ စသည်ဖြင့် ထီးအမျိုးမျိုးနှင့် ထီးနှင့်သက်ဆိုင်သော အပိုပစ္စည်းများ ထုတ်လုပ်ရာတွင်၊ ယင်းပစ္စည်းများအပေါ်၌ ဖိနှိပ်၍၊ ကပ်နှိပ်၍၊ ရိုက်နှိပ်၍၊ ရန်ကုန်မြို့နှင့်တကွ ပြည်ထောင်စုမြန်မာနိုင်ငံတဝန်းလုံးတွင် ဖြန့်ချီရောင်းချ သွားမည် ဖြစ်ပါသည်။

ထို့ပြင် ယင်းလုပ်ငန်းနှင့် ဆက်နွယ်ပတ်သက်သည့် စာရွက်စာတမ်း ကြော်ငြာ၊ လက်ကမ်းကြော်ငြာ၊ ရုပ်ရှင်ဆလိုက်ကြော်ငြာ၊ တီဗွီကြော်ငြာ၊ ဘလောက်၊ ဒီဇိုင်း၊ တံဆိပ်တုံး၊ အစရှိသည်တို့ အပေါ်တွင်လည်း ဖော်ပြပါ EAGLE အမှတ်တံဆိပ်ကို ရိုက်နှိပ်၍ မြန်မာပြည်အနှံ့အပြား ဖြန့်ချီသုံးစွဲသွားမည် ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ဖော်ပြပါကုန်တံဆိပ်အမည်အမှတ်အသားမှာ၊ မိမိတစ်ဦးတည်း မူပိုင်အဖြစ် မှတ်ပုံတင်သွင်းပြီး၊ စတင်လုပ်ကိုင်သည့်နေ့မှစ၍၊ နောက်နောင်တွင်၊ ယင်းတံဆိပ်အမည် အမှတ်အသားကို မှီငြမ်း၍၊ အတုအပ ပြုလုပ်ခြင်း၊ ဆင်တူရိုးမှားပြုလုပ်ခြင်း၊ သွယ်ဝိုက်၍ အတုအပပြုလုပ်ခြင်း စသည်တို့ကို လုပ်ကိုင်ဆောင်ရွက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

UNION OF MYANMAR

အခွန်တံဆိပ်ခေါင်း

REVENUE STAMP

၅ ကျပ်　　ငွေ ငါး ကျပ်　　K 5

အသုံးပြုသူများအားတွေ့ရှိပါက၊ မိမိ၏ လုပ်ငန်းအကျိုးစီးပွားကို ထိခိုက်နစ်နာမှုများအတွက်၊ လျော်ကြေးငွေများ တောင်းဆိုနိုင်ရန်နှင့် ယင်းအတုအပ ဆင်တူရိုးမှား ပြုလုပ်ထားသည့် တံဆိပ်များကို ပယ်ဖျက်နိုင်ရေးအတွက် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ မည်သည့်တရားရုံးများတွင်မဆို၊ တရားမကြောင်းဖြင့်ဖြစ်စေ၊ ပြစ်မှုကြောင်းဖြင့်ဖြစ်စေ၊ တရားဥပဒေဘောင်အတွင်းမှ အရေးယူဆောင်ရွက်သွားမည်ဖြစ်ကြောင်း အောက်ပါ အသိသက်သေတို့ ရှေ့မှောက်တွင် မြွက်ဟကြေငြာ လက်မှတ်ရေးထိုး၍၊ မှတ်ပုံတင်သွင်း အပ်ပါသည်။

ဗိုလ်မှူးသန်းလွင် (ငြိမ်း)
မန်နေဂျင်းဒါရိုက်တာ
ဟိန်းမြန်မာ ကုမ္ပဏီလီမိတက်

## အသိသက်သေများ

၁။
အမည် ... [illegible]
မှတ်ပုံတင်အမှတ် [illegible]
နေရပ်လိပ်စာ [illegible]

၂။
အမည် .. [illegible]
မှတ်ပုံတင်အမှတ် . [illegible]
နေရပ်လိပ်စာ . [illegible]

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# ဟိန်းမြန်မာကုမ္ပဏီလီမိတက်

***********

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

## HEIN MYANMAR COMPANY LIMITED

**HEIN MYANMAR COMPANY LIMITED**

**ဟိန်းမြန်မာကုမ္ပဏီလီမိတက်**

No. 1(B) Theik Pan Street, Ward I, Lashio Township, Northern Shan State, Myanmar. Tel : 082-21372

No. 55, 2nd Street, Lanmadaw Township, Yangon, Myanmar. Tel: 01-25276 , Fax: 95-1-25276

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၈ခုနှစ်၊ ဒီဇင်ဘာလ ( ၁ ) ရက်။

**အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ ဟိန်းမြန်မာကုမ္ပဏီလီမိတက် သည် ရန်ကုန်တိုင်း၊ ထန်းတပင်မြို့နယ်၊ အမှတ် (၄)ရပ်ကွက်၊ ကံကြီးကုန်းကွင်း၊ အကွက်အမှတ် (၁)၊ ဦးပိုင်အမှတ် (စက်မှု-၁၉၊၂၀၊၂၁၊၅၀၊၅၁၊၅၂ ) တွင် တည်ရှိသော ၃ .၅၂ ဧက အကျယ်အဝန်းရှိသည့် မြေနေရာတွင် ထီး ( Umbrella ) ထုတ်လုပ်မည့် စက်ရုံတည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ထီး ( Umbrella )များကို ထုတ်လုပ်ရောင်းချ နိုင်ရန်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

အကြိုစီစစ်ရန် တင်ပြထားခြင်းမှ ပြင်ဆင်ရန်အချက်များအား ပြင်ဆင်ပြီး ဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကို လိုအပ်သလို စီစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ ( ၃၅ ) စုံ ကိုပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

MAJOR THAN LWIN (RETD.)
MANAGING DIRECTOR
HEIN MYANMAR COMPANY LIMITED

HEIN MYANMAR COMPANY LIMITED
ဟိန်းမြန်မာကုမ္ပဏီလီမိတက်
No. 1(B) Theik Pan Street, Ward I, Lashio Township, Northern Shan State, Myanmar. Tel : 082-21372
No. 55, 2nd Street, Lanmadaw Township, Yangon, Myanmar. Tel: 01-25276 , Fax: 95-1-25276

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ( ၃ ) ရက်

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များအကြိုစိစစ် ပေးနိုင်ရန် ပေးပို့ခြင်း။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ ဟိန်းမြန်မာကုမ္ပဏီလီမိတက် သည် ရန်ကုန်တိုင်း၊ ထန်းတပင်မြို့နယ်၊ အမှတ် (၄)ရပ်ကွက်၊ ကံကြီးကုန်းကွင်း၊ အကွက်အမှတ် (၁)၊ ဦးပိုင် အမှတ်(စက်မှု-၁၉၊၂၀၊၂၁၊၅၀၊၅၁၊၅၂ ) တွင် တည်ရှိသော ၃.၅၂ ဧက အကျယ်အဝန်း ရှိသည့်မြေနေရာတွင် ထီး ( Umbrella ) ထုတ်လုပ်မည့် စက်ရုံတည်ဆောက်ပြီး၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်တွင် ထီး ( Umbrella )များကို ထုတ်လုပ်ရောင်းချ နိုင်ရန်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ကျွန်တော်တို့ကုမ္ပဏီ၏ အဆိုပြုလွှာကိုလိုအပ်သလို စိစစ် ပေးနိုင်ရန်အတွက် အဆိုပြုလွှာ(၁၅)စုံ ကိုပေးပို့တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

MAJOR [illegible] LWIN (RETD.)
MANAGING DIRECTOR
HEIN MYANMAR COMPANY LIMITED

**HEIN MYANMAR COMPANY LIMITED**
ဟိန်းမြန်မာကုမ္ပဏီလီမိတက်
No. 1(B) Theik Pan Street, Ward I, Lashio Township, Northern Shan State, Myanmar. Tel : 082-21372
No. 55, 2nd Street, Lanmadaw Township, Yangon, Myanmar. Tel: 01-25276 , Fax: 95-1-25276

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့၊
ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၇ ခုနှစ်၊ နိုဝင်ဘာလ( ၃ ) ရက်

အကြောင်းအရာ။ ။ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ ဟိန်းမြန်မာကုမ္ပဏီလီမိတက် သည် ရန်ကုန်တိုင်း၊ ထန်းတပင်မြို့နယ်၊ အမှတ်(၄)ရပ်ကွက်၊ ကံကြီးကုန်းကွင်း၊ အကွက်အမှတ် (၁)၊ ဦးပိုင်အမှတ်(စက်မှု-၁၉၊၂၀၊၂၁၊၅၀၊၅၁၊၅၂ ) တွင် တည်ရှိသော ၃.၇၂ ဧက အကျယ်အဝန်းရှိသည့်မြေနေရာတွင် ထီး ( Umbrella ) ထုတ်လုပ်မည့် စက်ရုံ တည်ဆောက်ပြီး၊ ထီး( Umbrella)များကို ပြည်တွင်းပြည်ပထုတ်လုပ်ရောင်းချနိုင်ရန်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ ကုမ္ပဏီလီမိတက်သည် တရုတ်ပြည်သူ့သမတနိုင်ငံ၊ ဟောင်ကောင် ရှိ WELLINK TRANSPORTATION LTD မှ အမေရိကန်ဒေါ်လာ (၁) သန်းတန်ဘိုးရှိသော ကမ္ဘာ့အဆင့်အတန်းမီစက်ပစ္စည်းကရိယာ နှင့်ကုန်ကြမ်းပစ္စည်းများကို ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ် (Deferred Payment System ) ဖြင့် (၄)နှစ်အတွင်း ပြန်လည်ပေးဆပ်ရန်တစ်နှစ်လျှင် (၅)ရာခိုင်နှုန်း အတိုးဖြင့် ဝယ်ယူတင်သွင်းမည်ဖြစ်ပါသည်။ ထွက်ရှိလာသောထီးများကို ကျွန်တော်တို့ကုမ္ပဏီ၏ ကိုယ်ပိုင်အမှတ်တံဆိပ်ဖြစ်သော EAGLE နှင့် NORIKO များကိုတပ်ဆင်ထုတ်လုပ်ရောင်းချသွားမည်ဖြစ်ပါသည်။

၃။ ကျွန်တော်တို့ကုမ္ပဏီလီမိတက်အနေဖြင့် ကိုယ်ပိုင်ရင်းနှီးငွေ ကျပ်(၄၂)သန်းကို မြန်မာနိုင်ငံကျပ်ငွေ၊ အဆောက်အဦး၊ မြေတန်ဖိုးများဖြင့်လည်းကောင်းထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြမည်ဖြစ်ပါသည်။ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချ၍ရရှိလာသောအမြတ်ငွေများကိုလည်း၊ မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက်ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက် လည်းကောင်း၊ စက်မှုနည်းပညာရပ်များတိုးပွားရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများစီးပွားရေးဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ ကျွန်တော်တို့ကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကိုလက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့်သက်သာခွင့်များ ကိုလည်းပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

HEIN MYANMAR COMPANY LIMITED
ဟိန်းမြန်မာကုမ္ပဏီလီမိတက်
No. 1(B) Theik Pan Street, Ward I, Lashio Township, Northern Shan State, Myanmar. Tel : 082-21372
No. 55, 2nd Street, Lanmadaw Township, Yangon, Myanmar. Tel: 01-25276 , Fax: 95-1-25276



၅။ ထို့အပြင်ထုတ်လုပ်မည့် ထီး( Umbrella )များကို နိုင်ငံခြားငွေဖြင့်လည်းကောင်း၊ ကျပ်ငွေဖြင့်လည်းကောင်း ရောင်းချရရှိရာတွင် ပထမ(၃)နှစ်အတွက် ကုန်သွယ်လုပ်ငန်း ခွန်သက်သာခွင့်ပြုရန်အတွက် ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာနသို့ လျှောက်ထားခွင့်ပြုပါရန် မေတ္တာရပ်ခံ တင်ပြအပ်ပါသည်။

၆။ လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁)ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်၊

(၂)လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ

(၃)ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်းများ

(၄)ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

MAJOR THAN LWIN (RETD.)
MANAGING DIRECTOR
HEIN MYANMAR COMPANY LIMITED

# HEIN MYANMAR COMPANY LIMITED

# ဟိန်းမြန်မာကုမ္ပဏီလီမိတက်

No. 1(B) Theik Pan Street, Ward I, Lashio Township, Northern Shan State, Myanmar. Tel : 082-21372

No. 55, 2nd Street, Lanmadaw Township, Yangon, Myanmar. Tel: 01-25276 , Fax: 95-1-25276

စာအမှတ်

ရက်စွဲ

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

ရန်ကုန်မြို့၊

ပြည်ထောင်စုမြန်မာနိုင်ငံတော်။

နေ့စွဲ ။ ။၁၉၉၇ခုနှစ်၊ နိုဝင်ဘာလ( ၃ ) ရက်။

အကြောင်းအရာ။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်း နှင့်ပတ်သက်၍ ကတိခံဝန်ချက်ပေးပို့ခြင်း။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ ဟိန်းမြန်မာကုမ္ပဏီလီမိတက် သည် ရန်ကုန်တိုင်း၊ ထန်းတပင် မြို့နယ်၊ အမှတ်(၄)ရပ်ကွက်၊ ကံကြီးကုန်းကွင်း၊ အကွက်အမှတ် (၁)၊ ဦးပိုင်အမှတ် (စက်မှု-၁၉၊၂၀၊၂၁၊၅၀၊၅၁၊၅၂ ) တွင် တည်ရှိသော ၃ .၅၂ ဧက အကျယ်အဝန်းရှိသည့် မြေနေရာတွင် ထီး ( Umbrella ) ထုတ်လုပ်မည့် စက်ရုံတည်ဆောက်ပြီး၊ ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် ထီး ( Umbrella )များကို ထုတ်လုပ်ရောင်းချ နိုင်ရန်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် ထုတ်လုပ်ခွင့်ရရှိနိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ကို လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်း ဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှ မည်သူမျှပိုင်ဆိုင်မှု မရှိပါဟု ဝန်ခံကတိပြုပါသည်။

၂။ ထို့အပြင် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ ထို့အပြင် ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ၊ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

MAJOR THAN LWIN (RETD.)

MANAGING DIRECTOR

HEIN MYANMAR COMPANY LIMITED

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ( မနသ - ၁ )

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ(ဂ)နှင့် ပုဒ်မ ၈ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊
ရက်စွဲ၊ ၃.၁၁.၉၇.

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံသူ၏ -

| | | |
|---|---|---|
| (က) | အမည် | ဦးသန်းလွင် |
| (ခ) | အဘအမည် | ဦးတင်ထွန်း |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၂/ဒဂန(နိုင်) ၀၁၁၆၅၅ |
| (ဃ) | နေရပ်လိပ်စာ | အမှတ် (၅၅)၊ မြေညီထပ်၊ ၂ လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| (င) | လူမျိုး/ဘာသာ | ဗမာ/ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | ဟိန်းမြန်မာကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | ထုတ်ကုန်သွင်းကုန်ရောင်းဝယ်ရေးနှင့် အထွေထွေစက်မှုလုပ်ငန်း |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ် (၅၅)၊ မြေညီထပ်၊ ၂ လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက၊ ဖက်စပ်ပြုလုပ်မည့်သူများ၏ -

| | | |
|---|---|---|
| (က) | အမည် | - |
| (ခ) | အဘအမည် | - |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - |
| (ဃ) | နေရပ်လိပ်စာ | - |
| | | - |
| (င) | လူမျိုး/ဘာသာ | - |
| (စ) | အဖွဲ့အစည်းအမည် | - |
| (ဆ) | လုပ်ငန်းအမျိုးအစား | - |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - |
| | | - |

၃။ ရင်းနှီးမြုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား-

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း — Eagle နှင့် Noriko အမှတ်တံဆိပ်တို့ဖြင့် ထီးထုတ်လုပ်ခြင်းလုပ်ငန်း ( Manufacturing of Umbrella with the brand of Eagle & Noriko )

(ခ) ဝန်ဆောင်မှုလုပ်ငန်း — -

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း — လီမိတက်ကုမ္ပဏီ ( နောက်ဆက်တွဲဇယား - ၁ )

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

(ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဌာန်-

(က) တစ်ဦးတည်းပိုင် — -

(ခ) အစုစပ်လုပ်ငန်း — -

(ဂ) လီမိတက်ကုမ္ပဏီ — ဟိန်းမြန်မာကုမ္ပဏီလီမိတက် (Hein Myanmar Co.,Ltd ) (နောက်ဆက်တွဲဇယား-၁ )

(ဃ) သမဝါယမအသင်း — -

၆။ အစုစပ်လုပ်ငန်းပုံသဏ္ဌာန်ဖွဲ့စည်းလိုပါက-

(က) အစုဝင်တို့ကထည့်ဝင်မည့်အစုငွေအမျိုးအစားနှင့်ပမာဏ — -

(ခ) အကျိုးအမြတ်ခွဲဝေမည့်အချိုးအစား — -

(ဂ) အစုစပ်ဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ — -

၇။ လီမိတက်ကုမ္ပဏီပုံသဏ္ဌာန်ဖွဲ့စည်းလိုပါက-

(က) ခွင့်ပြုမတည်ငွေရင်း — ကျပ် ၅၀,၀၀၀,၀၀၀(ကျပ်သန်းငါးဆယ်တိတိ)

(ခ) အစုရှယ်ယာအချိုးအစား — တစ်စုလျှင်ကျပ် ၁,၀၀၀(ကျပ်တစ်ထောင်တိတိ)တန် သာမန်အစုရှယ်ယာ ၅၀,၀၀၀ ( ငါးသောင်း )

(ဂ) အစုရှယ်ယာရှင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ — ကျပ် ၄၂,၀၀၀,၀၀၀(ကျပ်လေးဆယ်နှစ်သန်းတိတိ) တစ်စုလျှင်ကျပ် ၁,၀၀၀(ကျပ်တစ်ထောင်တိတိ)တန် အစုရှယ်ယာ ( ၄၂၀၀၀)

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ -

| | | ( ကျပ်ထောင်ပေါင်း ) |
|---|---|---|
| (က) | မတည်ငွေရင်းပမာဏ | စုစုပေါင်း |
| (၁) | ငွေပမာဏ | ၁၆,၀၀၀ |
| (၂) | အဆောက်အဦး( နောက်ဆက်တွဲဇယား ၂ ) | ၂၀,၀၀၀ |
| (၃) | မြေ | ၆,၀၀၀ |
| (၄) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | - |
| (၅) | စက်ပစ္စည်းကရိယာ(နောက်ဆက်တွဲ ၃-က ) | ၃,၀၀၀ |
| (၆) | ကုန်ကြမ်းပစ္စည်းများ(နောက်ဆက်တွဲ ၃-ခ ) | ၃,၀၀၀ |
| | စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၄၈,၀၀၀ |

(စက်ပစ္စည်းများနှင့်ကုန်ကြမ်းပစ္စည်းများကို တရုတ်ပြည်သူ့သမတနိုင်ငံ၊ ကောင်ကောင် ရှိ Wellink Transportation Ltd မှ ရွှေဆိုင်းငွေပေးချေခြင်းစနစ် (Deferred Payment System ) အရ (၄)နှစ်အကြွေးဖြင့်တစ်နှစ်လျှင် ၅% အတိုးနှုန်းဖြင့် ဝယ်ယူ မည် ဖြစ်ပါသည်။ )

| | | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|---|
| (ခ) | နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့် | | |
| (၁) | စက်ပစ္စည်းများ၊ စက်ကရိယာများ၏တန်ဖိုး ( နောက်ဆက်တွဲဇယား ၃-က ) | ၃၀၀၀၀၀၀ | ၅၀၀၀၀၀ |
| (၂) | ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူပစ္စည်း၏တန်ဖိုး ( နောက်ဆက်တွဲဇယား ၃-ခ ) | ၃၀၀၀၀၀၀ | ၅၀၀၀၀၀ |
| (၃) | ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ | - | - |
| | | ၆၀၀၀၀၀၀ | ၁၀၀၀၀၀၀ |

(ဂ) တည်ဆောက်မှုကာလ (၁၂)လ

(ဃ) ပမာဏစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ (၃)လ

(င) တည်ဆောက်မှုစတင်မည့်အချိန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှခွင့်ပြုမိန့် ရရှိသည့်နေ့မှ စတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား Eagle နှင့် Noriko အမှတ်တံဆိပ်တို့ဖြင့် ထီးထုတ်လုပ်ခြင်းလုပ်ငန်း ( Manufacturing of Umbrella with the brand of Eagle & Noriko )

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ ဦးပိုင်အမှတ်(စက်မှု-၁၉၊ ၂၀၊ ၂၁၊ ၅၀၊ ၅၁၊ ၅၂)၊ အကွက်အမှတ်(၁)၊ကံကြီးကုန်းကွင်း၊အမှတ်(၄)ရပ်ကွက်၊ ထန်းတပင်မြို့နယ်၊ ရန်ကုန်မြောက်ပိုင်းခရိုင်။

| | |
|---|---|
| (ဂ) ဆောင်ရွက်ပုံနည်းစနစ် | ခေတ်မီထုတ်လုပ်ခြင်းနည်းပညာ |
| (ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်- | |
| ၁။ ဒီဇယ်ဆီ | ဂါလံ (၁၅၀၀၀ ) |
| ၂။ ဓါတ်ဆီ | ဂါလံ ( ၅၀၀၀ ) |
| ၃။ စက်ဆီ၊ ချောဆီ | ဂါလံ ( ၁၀၀ ) |
| ၄။ သဘာဝဓါတ်ငွေ့ရည် | - |
| (င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်- | |
| ၁။ လျှပ်စစ်ဓါတ်အား | (၅၀၀) ကေဗွီအေ |
| ၂။ ဒီဇယ်ဆီအင်ဂျင်စက်အင်အား | (၄၀၀) K.W |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အင်အား | - |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | - |
| ၅။ ပေးပို့သည့်အခြားအား(ရေအား/လေအားစသည်များ) | - |
| (စ) နှစ်စဉ်ရေလိုအပ်ချက်- | |
| ၁။ တစ်နေ့ရေလိုအပ်ချက် | ဂါလံ ( ၁၀၀၀၀ ) |
| ၂။ တစ်နှစ်ရေလိုအပ်ချက် | ဂါလံ ( ၃၀၀၀၀၀၀ ) |
| (ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် | နောက်ဆက်တွဲဇယား - ၄ |
| (ဇ) အဆောက်အဦလိုအပ်ချက် | ၆၀ မီတာ × ၁၂ မီတာ (၁)လုံး |
| (ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝန်းလိုအပ်ချက် | ပုဂ္ဂလိကပိုင် စက်မှုမြေ၊ ( ၃.၇၂ )ဧက / ( ၁၅၀၅၄.၃၂ )စတုရန်းမီတာ |
| (ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှု | နောက်ဆက်တွဲဇယား - ၅ |
| (ဋ) ရောင်းချမည့်နည်းစနစ် | ပြည်ပသို့တင်ပို့ရောင်းချမှု ၇၅ % |
| | မြန်မာကျပ်ငွေရောင်းချမှု ၂၅ % |

၁၀။ နှစ်စဉ်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ-

| | ခန့်မှန်းခြေ ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား - ၆ | |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | နောက်ဆက်တွဲဇယား - ၈ | |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | နောက်ဆက်တွဲဇယား - ၅ | |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား - ၅ | |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား - ၅ | |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့်အမှုထမ်းများစာရင်း–

(က) ပြည်တွင်းမှလိုအပ်မည့်အမှုထမ်းများ– နောက်ဆက်တွဲဇယား – ၇

(ခ) နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့်အတတ်ပညာရှင်များ– နောက်ဆက်တွဲဇယား – ၇

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ–

| | ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲဇယား – ၈ | |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲဇယား – ၈ | |
| (ဂ) နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲဇယား – ၈ | |
| (ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲဇယား – ၉ | |
| (င) အရင်းကြေကာလ | နောက်ဆက်တွဲဇယား – ၁၀ | |
| (စ) အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲဇယား – ၁၁ /၁၂ | |
| (ဆ) အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ | နောက်ဆက်တွဲဇယား – ၇ | |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်းသည့်အထောက်အထားများ–
အဆိုပြုတင်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း။
(ခ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ။
(ဂ) သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်းများ။
(ဃ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့်အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ၊ ----------------------------
အမည်၊ ၊ ဦးသန်းလွင်
ရာထူး၊ ၊ အုပ်ချုပ်မှုဒါရိုက်တာ
ဟိန်းမြန်မာကုမ္ပဏီလီမိတက်

MAJOR THAN LWIN (RETD.)
MANAGING DIRECTOR
HEIN MYANMAR COMPANY LIMITED

PROPOSAL FORM (1) RE-ITEM 4( a ), 5(d)

## LIST OF EXECUTIVES

*Exhibit No. I*

| Sr. No. | Name | Citizenship & N.R.C No. Passport No. | Designation | Address | Amount of Capital | % |
|---|---|---|---|---|---|---|
| | ဟိန်းမြန်မာ ကုမ္ပဏီ လီမိတက် ကိုကိုယ်စားပြုသူများ | | | | ကျပ် (၄၂)သန်း | 100% |
| ၁။ | ဦးသန်းလွင် | မြန်မာ<br>၁၂/ဒဂန(နိုင်)၀၁၁၆၅၅ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ် (၅၅)၊ မြေညီထပ်၊ ၂ လမ်း၊<br>လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၂။ | ဒေါ်နန်းခင်မွေး | မြန်မာ<br>၁၃/လရန(နိုင်)၀ရဂ၃ရာ | ဒါရိုက်တာ | အမှတ် (၃၄)၊ (ဘီ-၄)၊ ရတနာလမ်း၊<br>စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၃။ | ဦးရဲဝင်းခိုင် | မြန်မာ<br>၁၂/ဒဂန(နိုင်)၀၀၁၆ရရ | မန်နေဂျာ | အမှတ် ၁(ဘီ)၊ သိပ္ပံလမ်း၊<br>လားရှိုးမြို့နယ်၊ ရှမ်းပြည်မြောက်ပိုင်း။ | | |
| | | | စုစုပေါင်းရင်းနှီးငွေ | | ကျပ် (၄၂)သန်း | 100% |

